

Form (3)

P000052

# THE REPUBLIC OF THE UNION OF MYANMAR

Myanmar Investment Commission

## PERMIT

Permit No. 140/2019 Dated 6 February 2019

This permit is issued by the Myanmar Investment Commission according to the section 25(c) of the Myanmar Investment Law-

(1) **Name of Investor** U MYINT TIN

(2) **Citizenship** MYANMAR

(3) **Residence Address** NO.145(A), TAW WIN YEIK THAR STREET, SHWE GONE DINE WARD, BAHAN TOWNSHIP, YANGON

(4) **Name and Address of Principle Organization** -

(5) **Place of Incorporation** -

(6) **Type of Business** CONSTRUCTION OF JETTY FOR STORAGE, DISTRIBUTION AND SALES OF DIESEL,GASOLINE AND LPG

(7) **Place(s) of investment Project** KWIN NO.855, KAMARTHIN (NORTH) KWIN, KAWTPRAN VILLAGE TRACT, MUDON TOWNSHIP, MON STATE

(8) **Amount of Foreign Capital** -

(9) **Period for Foreign Capital to be Brought in** -

(10) **Total Amount of Capital (Kyat)** 35,197.362 MILLION (INCLUDING US$ 19.645 MILLION)

(11) **Construction Period** 2 YEARS

(12) **Validity of Investment Permit** -

(13) **Form of Investment** WHOLLY MYANMAR OWNED

(14) **Name of Company Incorporated in** MON PETROL COMPANY LIMITED

Thaung Tun

(Thaung Tun)
Chairman



ပုံစံ (၃)



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ၁၄၀/၂၀၁၉ — ၂၀၁၉ ခုနှစ်၊ ဖေဖော်ဝါရီလ ၆ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ- ၂၅(ဂ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(၁) ရင်းနှီးမြှုပ်နှံသူအမည် ဦးမြင့်တင်

(၂) နိုင်ငံသား မြန်မာ

(၃) နေရပ်လိပ်စာ အမှတ် (၁၄၅-အေ)၊ တော်ဝင်ရိပ်သာလမ်း၊ ရွှေဂုံတိုင်ရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့

(၄) ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ -

(၅) ဖွဲ့စည်းရာအရပ် -

(၆) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား ဆီတင်ချဆိပ်ကမ်းတည်ဆောက်ပြီး ဓာတ်ဆီ၊ ဒီဇယ်ဆီနှင့် LPG တင်သွင်း သိုလှောင် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း

(၇) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) ကွင်းအမှတ်- ၈၅၅၊ ကမာသင်းမြောက်ကွင်း၊ ကော့ပရံ ကျေးရွာအုပ်စု၊ မုဒုံမြို့နယ်၊ မွန်ပြည်နယ်

(၈) နိုင်ငံခြားမတည်ငွေရင်းပမာဏ -

(၉) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ -

(၁၀) စုစုပေါင်းမတည်ငွေရင်းပမာဏ(ကျပ်) ၃၅,၁၉၇.၃၆၂ သန်း (အမေရိကန်ဒေါ်လာ ၁၉.၆၄၅ သန်းအပါအဝင် ကျပ် သုံးသောင်းငါးထောင်တစ်ရာ ကိုးဆယ့်ခုနစ်သန်း သုံးသိန်း ခြောက်သောင်း နှစ်ထောင် တိတိ)

(၁၁) တည်ဆောက်မှု/ပြင်ဆင်မှုကာလ ၂ နှစ်

(၁၂) ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့် သက်တမ်း -

(၁၃) ရင်းနှီးမြှုပ်နှံမှုပုံစံ ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည် MON PETROL COMPANY LIMITED (မွန်ပက်ထရို(လ်)ကုမ္ပဏီလီမိတက်)

Thaung Tun

(သောင်းထွန်း)
ဥက္ကဋ္ဌ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

စာအမှတ်၊ မရက- ၅(စ)/ခ-၀၁၇/၂၀၁၉(၁၆၆ )

ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ဖေဖော်ဝါရီလ ၆ ရက်

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Mon Petrol Company Limited ၏ ဆီတင်ချဆိပ်ကမ်း တည်ဆောက်ပြီး ဓာတ်ဆီ၊ ဒီဇယ်ဆီနှင့် LPG တင်သွင်း သိုလှောင် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ခွင့်ပြုမိန့်အပေါ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက်။ Mon Petrol Company Limited ၏ ၂၀၁၈ ခုနှစ် နိုဝင်ဘာလ ၆ ရက်စွဲပါစာ

၁။ Mon Petrol Company Limited မှ ကွင်းအမှတ် - ၈၅၅၊ ကမာသင်းမြောက်ကွင်း၊ ကော့ပရံ ကျေးရွာအုပ်စု၊ မုဒုံမြို့နယ်၊ မွန်ပြည်နယ်တွင် ဆီတင်ချဆိပ်ကမ်း တည်ဆောက်ပြီး ဓာတ်ဆီ၊ ဒီဇယ်ဆီနှင့် LPG တင်သွင်း သိုလှောင်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းအား ၂၀၁၉ ခုနှစ် ဖေဖော်ဝါရီလ ၄ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂/၂၀၁၉ ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေများကို ကျင့်သုံးလျက် Mon Petrol Company Limited အား ဆီတင်ချဆိပ်ကမ်း တည်ဆောက်ပြီး ဓာတ်ဆီ၊ ဒီဇယ်ဆီနှင့် LPG တင်သွင်း သိုလှောင်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ ၁၄၀/၂၀၁၉ ကို ထုတ်ပေးလိုက်သည်။

၂။ Mon Petrol Company Limited အနေဖြင့် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာ ဆောင်ရွက်ရမည်-

(က) Mon Petrol Company Limited အနေဖြင့် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း (၁၈)၊ ပုဒ်မ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့် အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ခ) Mon Petrol Company Limited သည် ဤခွင့်ပြုမိန့်အရ **ဝန်ဆောင်မှု ရည်မှန်းချက်များကို အကောင်းဆုံးရည်မှန်းချက်များအဖြစ်** အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

(ဂ) Mon Petrol Company Limited အနေဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၆၅ နှင့် နည်းဥပဒေအခန်း (၂၀) တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့် အညီ လိုက်နာဆောင်ရွက်ရမည်။

(ဃ) Mon Petrol Company Limited သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် သက်ဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့်အညီ ဆောင်ရွက်ရမည်။

(င) Mon Petrol Company Limited သည် လုပ်ငန်းဆောင်ရွက်ရာတွင် ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး(ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့်လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(စ) Mon Petrol Company Limited သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး စနစ်များကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများ၊ သဲအိတ်များကဲ့သို့ မီးဘေး အန္တရာယ် ကြိုတင်ကာကွယ်မှုဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများ အသုံးပြုတတ်စေရန်အတွက် သင်တန်းများပေးခြင်းနှင့် မီးသတ်အရာရှိတစ်ဦး ခန့်အပ်ခြင်းတို့ကို ဆောင်ရွက်ရမည်။

(ဆ) Mon Petrol Company Limited သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၂ နှင့် နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

(ဇ) Mon Petrol Company Limited သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၉၆ အရ ခွင့်ပြုမိန့် သို့မဟုတ် သက်သာခွင့် ရရှိထားသော ရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ်ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေး

စိတ်များပါရှိသည့် နှစ်စဉ်အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်) ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက် (ဘ်)ဆိုဒ်သို့ တင်ပြရမည်။

(ဈ) Mon Petrol Company Limited သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်းဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင် တစ်ကြိမ် ကော်မရှင်က သတ်မှတ်တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ Mon Petrol Company Limited သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ၆၅(ဃ) အရ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာ ဌာန သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ရမည်။

၄။ Mon Petrol Company Limited သည် အဆိုပြုလုပ်ငန်းကို အကောင်အထည်ဖော် ဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့် ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ သက်ဆိုင်ရာဌာနနှင့် မြေငှားရမ်းခြင်း စာချုပ်ချုပ်ဆိုသည်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ပြီး မိတ္တူ (၅) စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

(သောင်းထွန်း)
ဥက္ကဋ္ဌ

**Mon Petrol Company Limited**

**ဖြန့်ဝေခြင်း**

ပြည်ထဲရေးဝန်ကြီးဌာန
ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန
ရင်းနှီးမြှုပ်နှံမှုနှင့် နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ